သို့ - Wuxi Hua Guang (Myanmar) Co.,Ltd .

တီကျစ်ကျောက် မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေး စက်ရုံအား နှစ်ရှည်ငှားရမ်း၍ အဆင့်မြှင့်တင်ပြုပြင်ခြင်းနှင့် ဘွိုင်လာအသစ်တည်ဆောက်၍လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၁-၈-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး | ၃-၉-၂၀၁၅ | ၈-၁၀-၂၀၁၅ | (၃၅)ရက် |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၃-၉-၂၀၁၅ | ၂၄-၉-၂၀၁၅ | (၂၁)ရက် |
| | (ဂ) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန | ၃-၉-၂၀၁၅ | ၁-၁၀-၂၀၁၅ | (၂၈)ရက် |
| | (ဃ) မြန်မာနိုင်ငံတော် ဗဟိုဘဏ် | ၃-၉-၂၀၁၅ | ၁၅-၉-၂၀၁၅ | (၁၂)ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၀/၂၀၁၅) သို့ တင်ပြခြင်း | ၃၁-၈-၂၀၁၅ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်း | ၃-၉-၂၀၁၅ | | |
| | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၀/၂၀၁၅)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၈-၉-၂၀၁၅ | ၈-၁၀-၂၀၁၅ | } (၃၀)ရက် |
| ၅ | ပတ်ဝန်းကျင် သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၁၀-၉-၂၀၁၅ | ၁၆-၁၀-၂၀၁၅ | |
| ၆ | ဗဟိုဘဏ်၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၂၁-၉-၂၀၁၅ | - | |
| ၇ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | | ၁၉-၁၀-၂၀၁၅ | |
| ၈ | စုစုပေါင်းကြာမြင့်ရက် ( ၅၉ ) ရက် | | | |

21.8.15 – 10
9/15
19.10.15 – 14
59

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Wuxi Hua Guang (Myanmar) Co.,Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Wuxi Huaguang Electric Power Engineering Co., Ltd.<br>(တရုတ်ပြည်သူ့သမ္မတနိုင်ငံ) ၁၀၀% |
| လုပ်ငန်းအမျိုးအစား | - | တီကျစ်ကျောက် မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေး စက်ရုံအား နှစ်ရှည်ငှားရမ်း၍ အဆင့်မြှင့်တင် ပြုပြင်ခြင်းနှင့် ဘွိုင်လာအသစ်တည်ဆောက်၍လျှပ်စစ်ဓါတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ( Renovation of Tigyit Coal-fired Thermal Power Plant and construction of new boiler for electricity generation) |
| တည်နေရာ | - | တီကျစ် (၁၂၀ မဂ္ဂါဝပ်)ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ ကွင်း အမှတ်(၁၃-ပြင်သာရွာမ)၊ (၁၄-လီထွီတောင်)၊ (၁၅-ဆည်ခေါင်းရွာမ) ဦးပိုင် အမှတ် (၁၁၂)၊ တီကျစ်ကျေးရွာ၊ နောင်တရားမြို့နယ်ခွဲ၊ ပင်လောင်းမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၄၇ သန်း |
| လုပ်ငန်းသက်တမ်း | - | ၂၂ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ) |
| အရင်းကြေကာလ | - | ၅ နှစ် ၄ လ |
| IRR | - | ၁၇.၅၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃၀.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၀၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၇၁၈၈.၀၀ သန်း |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၈၂၅.၀၀ သန်း | - |
| ၅ | ဝင်ငွေခွန် | ကျပ် ၆၂၀၁.၀၀ သန်း | ကျပ် ၁၂၈၇၆.၀၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ကျပ် ၆၄.၄၈ သန်း |
| ၈ | CSR (၂%) | | ကျပ် ၅၀၀.၄၀ သန်း |
| ၉ | စက်ရုံငှားရမ်းခ | | ကျပ် ၃၁၁၅၂.၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၄၀ ဦး<br>ပြည်ပ ၃၀ ဦး |
| | | | ပြည်တွင်းလုပ်သား (၁၄၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၇၀၅၆.၀၀ သန်း | ကျပ် ၅၁၇၈၂.၀၅ သန်း |
| | Cost : Benefit | ၁ : ၇ | |

## ရာခိုင်နှုန်းပြည့် ရင်းနှီးမြှုပ်နှံမှုဖြင့် Wuxi Hua Guang (Myanmar) Co.,Ltd . မှ ၁၂၀ မဂ္ဂါဝပ် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Wuxi Hua Guang (Myanmar) Co.,Ltd.<br>Mr.Zhao Zheng |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Wuxi Huaguang Electric Power Engineering Co., Ltd.<br>(တရုတ်ပြည်သူ့သမ္မတနိုင်ငံ) ၁၀၀% |
| ၂ | လုပ်ငန်းအမျိုးအစား | - တီကျစ်ကျောက် မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေးစက်ရုံအား နှစ်ရှည်ငှားရမ်း၍ အဆင့်မြှင့်တင် ပြုပြင်ခြင်းနှင့် ဘွိုင်လာအသစ်တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း (Renovation of Tigyit Coal-fired Thermal Power Plant and construction of new boiler for electricity generation) |
| ၃ | တည်နေရာ | - တီကျစ် (၁၂၀ မဂ္ဂါဝပ်)ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ၊ ကွင်းအမှတ်(၁၃-ပြင်သာရွာမ)၊ (၁၄-လွယ်ထွီတောင်)၊ (၁၅-ဆည်ခေါင်းရွာမ) ဦးပိုင်အမှတ်(၁၁၂)၊တီကျစ်ကျေးရွာအုပ်စု၊ နောင်တရားမြို့နယ်ခွဲ၊ ပင်လောင်းမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ် |
| | မြေအကျယ်အဝန်း | - မြေ ၁၁၁.၃၄ ဧက |
| | မြေပိုင်ရှင် | - လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ရေအားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်း |
| ၄ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကိုယ်ပိုင်ငွေ US$ ၁၄.၁၀ သန်း(၃၀%)နှင့်ချေးငွေ US$ ၃၂.၉၀ သန်း(၇၀%) အပါအဝင် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ US$ ၄၇.၀၀ သန်း |

US$ သန်း

| | |
|---|---|
| ငွေသား | ၀.၅၀ |
| စက်ပစ္စည်း (ပြည်ပဝယ်) | ၃၁.၂၃ |
| လုပ်ငန်းသုံးပစ္စည်း(ပြည်ပဝယ်) | ၁၀.၅၂ |
| ရုံးသုံးပစ္စည်း | ၀.၁၆ |
| အဆောက်အဦ | ၃.၁၅ |
| တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်း | ၁.၄၄ |
| **စုစုပေါင်း** | ၄၇.၀၀ |

၅ ဝင်ငွေရရှိမှုအခြေအနေ (၆ နှစ်မြောက်) -

| ထုတ်လုပ်မည့် လျှပ်စစ်ဓါတ်အား (Year/KW h) | ဈေးနှုန်း US$/KWh | ရရှိမည့် ဝင်ငွေ US$ (Million) |
|---|---|---|
| ၇၆၀,၀၀၀,၀၀၀ | ၀.၀၃၅ | ၂၆.၆ |

| | | |
|---|---|---|
| ၆ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း၌ ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်။ |
| ၇ | လုပ်ငန်းသက်တမ်း | - ၂၂ နှစ် |
| ၈ | တည်ဆောက်ရေးကာလ | - ၂၄ လ |

| | | |
|---|---|---|
| ၉ | ဝန်ထမ်းအင်အား | - ၁၇၁ ဦး |
| | ပြည်တွင်း | - ၁၄၀ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၃၅၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၃၁ ဦး (တစ်လလျှင် ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။ |
| ၁၀ | (၆)နှစ်မြောက်တွင် ကုမ္ပဏီ၏ | |
| | ဝင်ငွေ | - US$ ၂၆.၆၀ သန်း |
| | အသုံးစရိတ် | - US$ ၂၁.၈၂ သန်း |
| | အသားတင်အမြတ် | - US$ ၄.၇၈ သန်း |
| ၁၁ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - US$ ၁.၅၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၁.၃၃ သန်း |
| ၁၂ | အရင်းကြေကာလ | - ၅ နှစ် ၄ လ |
| ၁၃ | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၇.၅၆ % |
| ၁၄ | ငွေကြေးအထောက်အထား | - နိုင်ငံခြားငွေ အထောက်အထားအဖြစ် Wuxi Huaguang Electric Power Engineering Co., Ltd. အမည်ဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Taihu Branch of ABC ဘဏ်တွင် ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၇ ရက်နေ့ရှိ ငွေလက်ကျန် USD ၉၉၉၉၈၅ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၅ | စက်ရုံငှားရမ်းခြင်းစာချုပ် (မူကြမ်း)ပါ အဓိကအချက်များ | - လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း နှင့် Wuxi Huaguang Electric Power Engineering Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် ကျောက်မီးသွေး လောင်စာသုံး လျှပ်စစ်ဓါတ်အားပေး စက်ရုံငှားရမ်း၍ ရင်းနှီးမြှုပ်နှံခြင်းလုပ်ငန်း သဘောတူ စာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က) ငှားရမ်းမည့် သက်တမ်းကာလမှာ စာချုပ် လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း ပထမအဆင့်၏ စီးပွားဖြစ်စတင် သည့် နေ့မှစ၍ (၂၂)နှစ်ဖြစ်ပါသည်။ **အပိုဒ်-၅(၁)**<br>(ခ) နှစ်စဉ်ငှားရမ်းခအဖြစ် တစ်နှစ်လျှင် US$ ၁.၁၈ သန်းဖြင့် စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အချိန်မှစတင်၍ နှစ်စဉ်ပေးသွင်းရမည် ဖြစ်ပါသည်။ **အပိုဒ်-၅(၂)**<br>(ဂ) Wuxi Huaguang Electric Power Engineering Co., Ltd. သည် Performance Bank Guarantee အဖြစ် ကျပ်သန်း ၁၀၀ သို့မဟုတ် ကျပ်သန်း ၁၀၀နှင့် ညီမျှသော အမေရိကန်ဒေါ်လာကို MFTB ဘဏ်ရှိ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း၏ ဘဏ် စာရင်းသို့ စာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးသွင်းရမည် ဖြစ်ပါသည်။ **အပိုဒ်-၅(၅)** |

| | | |
|---|---|---|
| | | (ဃ) လုပ်ငန်းပထမအဆင့်နှင့် ဒုတိယအဆင့် အတွက် ဆောင်ရွက်မည့် တည်ဆောက်ရေး ကာလမှာ စာချုပ်လက်မှတ်ရေးထိုးပြီးနောက် ၂၄ လ ဖြစ်ပါသည်။ **အပိုဒ်-၆(၃)**<br>(င) Wuxi Huaguang Electric Power Engineering Co., Ltd. သည် စက်ရုံငှားရမ်းခြင်း သက်တမ်းကို တိုးမြှင့်လိုပါက ငှားရမ်း သက်တမ်းမကုန်ဆုံးမီ (၆)လအလိုတွင် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေး လုပ်ငန်းသို့ (၅)နှစ်(၂)ကြိမ် တိုးမြှင့်ခွင့်ပြုရန် တင်ပြနိုင်ပါသည်။ **အပိုဒ်-၆(၆)**<br>(စ) Wuxi Huaguang Electric Power Engineering Co., Ltd. သည် စာချုပ် သက်တမ်းကုန်ဆုံးသည့်နေ့မှ (၁)လအတွင်း အငှား ချထားသည့် စက်ရုံကို မည်သည့် အဖိုးစားနားမှုမပါဘဲ လျှပ်စစ် ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်းသို့ ပြန်လည်လွှဲပြောင်း ပေးရမည် ဖြစ်သည်။ **အပိုဒ်-၂၀(၁)** |
| ၁၆ | Loan Agreement ပါ အဓိက အချက် | - Wuxi Hua Guang (Myanmar) Co., Ltd. သည် တရုတ်ပြည်သူ့ သမ္မတ နိုင်ငံမှ မိခင်ကုမ္ပဏီဖြစ်သော Wuxi Huaguang Electric Power Engineering Co., Ltd. ထံမှ US$ ၃၂,၉၀၀,၀၀၀ ကို အတိုးနှုန်း ၆ % ဖြင့် ချေးယူ၍ ၅ နှစ်အတွင်းပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။ |
| ၁၇ | အခြားတင်ပြချက်များ | - Wuxi Huaguang Electric Power Engineering Co., Ltd. သည် တီကျစ်ကျောက်မီးသွေးသုံး ရေနွေးငွေ့ဓါတ်အားပေးစက်ရုံအား နှစ်ရှည် ငှားရမ်း၍ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဆောင်ရွက်ရန်အတွက် တင်ဒါ အောင်မြင် ခဲ့ပြီး လုပ်ငန်း ပထမအဆင့်အနေဖြင့် စက်ရုံရှိ လက်ရှိအသုံးပြုနေသော စက်ပစ္စည်းများအား အဆင့်မြှင့်တင် ပြုပြင်၍လည်းကောင်း၊ လုပ်ငန်းဒုတိယ အဆင့်အနေဖြင့် ဘွိုင်လာ အသစ်တည်ဆောက်၍လည်းကောင်း၊ လျှပ်စစ် ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို Wuxi Hua Guang (Myanmar) Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံတွင် တည်ထောင်ပြီး ၁၀၀% နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်လိုပါကြောင်း။<br>- အဆိုပြုချက်နှင့်အတူ နိုင်ငံတော်သမ္မတရုံး ၁၄-၇-၂၀၁၅ ရက်စွဲပါစာအရ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း နှင့် Wuxi Huaguang Electric Power Engineering Co., Ltd. တို့ ချုပ်ဆိုမည့် ကျောက်မီးသွေး လောင်စာသုံး လျှပ်စစ်ဓါတ်အားပေး စက်ရုံငှားရမ်း၍ ရင်းနှီးမြှုပ်နှံခြင်း လုပ်ငန်းသဘောတူစာချုပ်(မူကြမ်း)၊ ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေး လုပ်ငန်းနှင့် Wuxi Hua Guang (Myanmar) Co., Ltd. တို့ ချုပ်ဆိုမည့် လျှပ်စစ်ဓါတ်အား ဝယ်ယူရေး စာချုပ် (Power Purchase Agreement - PPA) (မူကြမ်း)၊ ချေးငွေအတွက် Wuxi Huaguang Electric Power Engineering Co., Ltd. နှင့် Wuxi Hua Guang (Myanmar) Co., Ltd. တို့ချုပ်ဆိုမည့် ချေးငွေစာချုပ်(မူကြမ်း) နှင့် ချေးငွေ ပြန်လည်ပေးဆပ်မည့် (Loan Repayment Schedule) တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၈ | စိစစ်တင်ပြချက် | - ရှမ်းပြည်နယ်တောင်ပိုင်း၊ ပင်လောင်းမြို့နယ်၊ တီကျစ်ဒေသတွင် မြန်မာ့လျှပ်စစ် ဓါတ်အားလုပ်ငန်းမှ ဆောက်လုပ်လျက်ရှိသော ကျောက်မီးသွေးလောင်စာသုံး လျှပ်စစ်ဓါတ်အားပေး စက်ရုံအတွက် ကျောက်မီးသွေးထုတ်လုပ်ခြင်း လုပ်ငန်းကိုဆောင်ရွက်ရန် ဒေင်စွမ်းအင်နှင့် သဘာဝအရင်းအမြစ်များ ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီလီမိတက်အား ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ်၊ မနသ- ၅၉၇/၂၀၀၃ (၂၇-၂-၂၀၀၃) ဖြင့် ခွင့်ပြုခဲ့ပါသည်။<br>- ကျောက်မီးသွေးမှ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်းကို ကော့သောင်းမြို့၊ တနင်္သာရီတိုင်းဒေသကြီးတွင် ဆောင်ရွက်ရန် သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် အမှတ် ၈၄၉/၂၀၁၂(၂၉-၆-၂၀၁၂)ဖြင့် ခွင့်ပြုခဲ့ကြောင်းနှင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုခဲ့ခြင်း မရှိသေးကြောင်း စိစစ်တင်ပြအပ်ပါသည်။<br>- အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော လောင်စာ ကျောက်မီးသွေးကို လုံလောက်သည့် ပမာဏအထိ ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း မှ အပြည့်အဝပေးနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- စက်ရုံငှားရမ်းမည့် သက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း ပထမအဆင့်၏ စီးပွားဖြစ်စတင်သည့် နေ့မှစ၍ (၂၂)နှစ်ဖြစ်ပြီး နှစ်စဉ်ငှားရမ်းခအား စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ သတ်မှတ်မည်ဖြစ်ကြောင်းစိစစ်တွေ့ရှိရပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၄ /န-၀၃၆ /၂၀၁၅ ( ၈၂၀ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၀ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wuxi Hua Guang (Myanmar) Co.,Ltd မှ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်းပိုင် ရှမ်းပြည်နယ်၊ ပင်လောင်းမြို့ရှိ တီကျစ်ကျောက်မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေး စက်ရုံအား နှစ်ရှည်ငှားရမ်း၍ အဆင့်မြှင့်တင် ပြုပြင်ခြင်းနှင့် ဘွိုင်လာအသစ်တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်ပြည်သူ့ သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Wuxi Huaguang Electric Power Engineering Co., Ltd. မှ မြန်မာနိုင်ငံတွင် Wuxi Hua Guang (Myanmar) Co., Ltd. တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်(၁၁၂)၊ ကွင်းအမှတ် (၁၃-ပြင်သာရွာမ)(၁၄-လွယ်ထို့တောင်)(၁၅-ဆည်ခေါင်းရွာမ)၊ တီကျစ်ကျေးရွာအုပ်စု၊ နောင်တရား မြို့နယ်ခွဲ၊ ပင်လောင်းမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်ရှိမြေ ၁၁၁.၃၄ ဧကတွင် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်းပိုင် တီကျစ်ကျောက်မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေး စက်ရုံအား နှစ်ရှည်ငှားရမ်း၍ အဆင့်မြှင့်တင် ပြုပြင်ခြင်းနှင့် ဘွိုင်လာအသစ်တည်ဆောက်၍လျှပ်စစ်ဓါတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ( Renovation of Tigyit Coal-fired Thermal Power Plant and construction of new boiler for electricity generation)ကို ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ Wuxi Huaguang Electric Power Engineering Co., Ltd. သည် တီကျစ်ကျောက်မီးသွေးသုံး ရေနွေးငွေ့ဓါတ်အားပေးစက်ရုံအား နှစ်ရှည် ငှားရမ်း၍ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဆောင်ရွက်ရန်အတွက် တင်ဒါအောင်မြင်ခဲ့ပြီး လုပ်ငန်း ပထမအဆင့် အနေဖြင့် စက်ရုံရှိ လက်ရှိအသုံးပြုနေသော စက်ပစ္စည်းများအား အဆင့်မြှင့်တင် ပြုပြင်၍ လည်းကောင်း၊ လုပ်ငန်း ဒုတိယအဆင့်အနေဖြင့် ဘွိုင်လာအသစ် တည်ဆောက်၍လည်းကောင်း၊ လျှပ်စစ် ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို Wuxi Hua Guang (Myanmar) Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံတွင် တည်ထောင်ပြီး ၁၀၀% နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်လိုပါကြောင်း လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ တင်ပြထားပါသည်။

ကန့်သတ်

၃။ အဆိုပြုချက်နှင့်အတူ နိုင်ငံတော်သမ္မတရုံး ၁၄-၇-၂၀၁၅ ရက်စွဲပါစာအရ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း နှင့် Wuxi Huaguang Electric Power Engineering Co., Ltd. တို့ ချုပ်ဆိုမည့် ကျောက်မီးသွေး လောင်စာသုံး လျှပ်စစ်ဓါတ်အားပေး စက်ရုံငှားရမ်း၍ ရင်းနှီး မြှုပ်နှံခြင်းလုပ်ငန်း သဘောတူစာချုပ် (မူကြမ်း)၊ ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း နှင့် Wuxi Hua Guang (Myanmar) Co., Ltd. တို့ ချုပ်ဆိုမည့် လျှပ်စစ်ဓါတ်အား ဝယ်ယူရေး စာချုပ် (Power Purchase Agreement -PPA) (မူကြမ်း)၊ ချေးငွေအတွက် Wuxi Huaguang Electric Power Engineering Co., Ltd. နှင့် Wuxi Hua Guang (Myanmar) Co., Ltd. တို့ချုပ်ဆိုမည့် ချေးငွေစာချုပ်(မူကြမ်း) နှင့် ချေးငွေ ပြန်လည်ပေးဆပ်မည့် (Loan Repayment Schedule ) တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလမှာ (၂၂)နှစ်ဖြစ်ပြီး တည်ဆောက်မှု ကာလမှာ ၂၄ လ ဖြစ်ပါသည်။

၅။ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း နှင့် Wuxi Huaguang Electric Power Engineering Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် ကျောက်မီးသွေးလောင်စာသုံး လျှပ်စစ်ဓါတ်အားပေး စက်ရုံငှားရမ်း၍ ရင်းနှီး မြှုပ်နှံခြင်း လုပ်ငန်း သဘောတူစာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ငှားရမ်းမည့် သက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း ပထမအဆင့်၏ စီးပွားဖြစ်စတင်သည့်နေ့မှစ၍ (၂၂)နှစ်ဖြစ်ပါသည်။ **အပိုဒ်-၅(၁)**

(ခ) နှစ်စဉ်ငှားရမ်းခအဖြစ် တစ်နှစ်လျှင် US$ ၁.၁၈ သန်းဖြင့် စာချုပ်လက်မှတ်ရေးထိုး ပြီးသည့် အချိန်မှစတင်၍ နှစ်စဉ်ပေးသွင်းရမည် ဖြစ်ပါသည်။ **အပိုဒ်-၅(၂)**

(ဂ) Wuxi Huaguang Electric Power Engineering Co., Ltd. သည် Performance Bank Guarantee အဖြစ် ကျပ်သန်း ၁၀၀ သို့မဟုတ် ကျပ်သန်း ၁၀၀နှင့် ညီမျှသော အမေရိကန်ဒေါ်လာကို MFTB ဘဏ်ရှိ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း၏ ဘဏ်စာရင်းသို့ စာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးသွင်းရမည် ဖြစ်ပါသည်။ **အပိုဒ်-၅(၅)**

(ဃ) လုပ်ငန်းပထမအဆင့်နှင့် ဒုတိယအဆင့် အတွက် ဆောင်ရွက်မည့် တည်ဆောက်ရေး ကာလမှာ စာချုပ်လက်မှတ်ရေးထိုးပြီးနောက် ၂၄ လ ဖြစ်ပါသည်။ **အပိုဒ်-၆(၃)**

(င) Wuxi Huaguang Electric Power Engineering Co., Ltd. သည် စက်ရုံ ငှားရမ်းခြင်း သက်တမ်းကို တိုးမြှင့်လိုပါက ငှားရမ်းသက်တမ်းမကုန်ဆုံးမီ (၆)လအလို တွင် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်းသို့ (၅)နှစ်(၂)ကြိမ် တိုးမြှင့်ခွင့်ပြုရန် တင်ပြနိုင်ပါသည်။ **အပိုဒ်-၆(၆)**

(စ) Wuxi Huaguang Electric Power Engineering Co., Ltd. သည် စာချုပ် သက်တမ်းကုန်ဆုံးသည့်နေ့မှ (၁)လအတွင်း အငှားချထားသည့် စက်ရုံကို မည်သည့်

အဖိုးစားနားမျှမပါဘဲ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်းသို့ ပြန်လည်လွှဲပြောင်းပေးရမည် ဖြစ်သည်။ **အပိုဒ်-၂၀(ဓ)**

၇။ လုပ်ငန်း၏စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ US$ ၄၇.၀၀ သန်းဖြစ်ပြီး ၎င်းတွင် ကိုယ်ပိုင်မတည်ငွေ US$ ၁၄.၁၀ သန်း(၃၀%)နှင့်ချေးငွေ US$ ၃၂.၉၀ သန်း(၇၀%) အပါအဝင် ဖြစ်ပါသည်။ ချေးငွေ US$ ၃၂.၉၀ သန်းကို တစ်နှစ်လျှင် အတိုးနှုန်း ၆% ဖြင့် (၅)နှစ်အတွင်း ပေးဆပ်မည်ဖြစ်ပါသည်။ US$ ၃၁.၂၃ သန်းတန်ဖိုးရှိ စက်ပစ္စည်းများနှင့် US$ ၁၀.၅၂ သန်းတန်ဖိုးရှိ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်မှု အမျိုးအစားမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | (US$ /သန်း) |
|---|---|---|
| ငွေသား | - | ၀.၅၀ |
| စက်ပစ္စည်း (ပြည်ပဝယ်) | - | ၃၁.၂၃ |
| လုပ်ငန်းသုံးပစ္စည်း (ပြည်ပဝယ်) | - | ၁၀.၅၂ |
| ရုံးသုံးပစ္စည်း | - | ၀.၁၆ |
| အဆောက်အဦ | - | ၃.၁၅ |
| တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်း | - | ၁.၄၄ |
| **စုစုပေါင်း** | | **၄၇.၀၀** |

၈။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၄၀)ဦးနှင့် ပြည်ပဝန်ထမ်း (၃၁)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၃၅၀ ဖြစ်ပါသည်။ ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၅၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။

၉။ တီကျစ်ကျောက် မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေး စက်ရုံအား နှစ်ရှည်ငှားရမ်း၍ ၁၂၀ မဂ္ဂါဝပ် လျှပ်စစ်ဓါတ်အားထုတ်လုပ်ရန်အတွက် နှစ်စဉ် ကျောက်မီးသွေးတန်ချိန် ၇.၅ သိန်း လိုအပ်မည်ဖြစ်ပါသည်။ စက်ရုံ၏ မူလဒီဇိုင်းအရ တစ်နှစ်လျှင် ကျောက်မီးသွေးတန်ချိန် ၆ သိန်းသာ လိုအပ်မည်ဖြစ်ပြီး ဓါတ်အားပေးစက်များပြုပြင်ပြီးချိန်နှင့် ဘွိုင်လာအသစ် တည်ဆောက်ပြီးချိန်တွင် တစ်နှစ်လျှင် ကျောက်မီးသွေးတန်ချိန် ၈ သိန်းအထိ လိုအပ်မည် ဖြစ်ကြောင်း၊ အဆိုပါလိုအပ်သည့် ကျောက်မီးသွေး ပမာဏအား အချိန်မီ ထုတ်ပေးနိုင်ရေးအတွက် ဇေဝင်စွမ်းအင်နှင့် သဘာဝ အရင်းအမြစ်များ ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီလီမိတက်နှင့် စာချုပ်ချုပ်ဆိုဆောင်ရွက်ရန် သဘောတူညီမှု ရရှိပြီးဖြစ်၍ ကုန်ကြမ်းသုံးစွဲမှု အတွက် ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေး လုပ်ငန်း မှ အပြည့်အဝပေးနိုင်ကြောင်း လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ သဘောထား ပြန်ကြား ထားပါသည်။

၁၀။ အဆိုပြု လုပ်ငန်းမှ ထုတ်လုပ်သော လျှပ်စစ်ဓါတ်အားကို ဌာနသို့ ၁၀၀% ရောင်းချမည် ဖြစ်ပြီး ထုတ်လုပ်မှုမှာ ဒုတိယနှစ်မှစ၍ တစ်နှစ်လျှင် အနည်းဆုံး ကီလိုဝပ်နာရီ သန်းပေါင်း ၇၆၀ နှင့် ရောင်းချမည့် ဈေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် US$ ၀.၀၃၅ ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | US$ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၂၆.၆၀ |
| (ခ) | အသုံးစရိတ် | - | ၂၁.၈၂ |
| (ဂ) | အသားတင်အမြတ် | - | ၄.၇၈ |

၁၂။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၁.၅၉ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၁.၃၃သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် နှင့် ၄ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၇.၅၆ % ဖြစ်ပါသည်။ CSR ၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၃။ ယင်းအဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက် ပါအတိုင်း ပြန်ကြားလာပါသည်-

(က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ နောက်ဆက်တွဲ-က

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံ ကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း။

(၂) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်ပါကြောင်း။

(၃) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်းအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း။

(၄) အဆိုပြုလုပ်ငန်း သုံးစွဲခြင်းနှင့်ပတ်သက်၍ ယခင် ကျောက်မီးသွေးမှ အနံ့ဆိုး ထွက်ရှိခြင်းကို ယခုဆောင်ရွက်သည့်အခါ အနံ့ဆိုးထွက်ခြင်းမရှိအောင် ဆောင်ရွက်သင့်ပြီး စက်ရုံမှ ထွက်ရှိ သည့်ပြာများကို ကျေးရွာရှိနေအိမ်များပေါ်သို့ ကျရောက်မှုမရှိအောင် စနစ်တကျ ဆောင်ရွက်ပေးမည်ဆိုပါက သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုအရ လက်ခံနိုင်မှု ရှိပါကြောင်း၊ လုပ်ငန်း ဆောင်ရွက်နိုင်မည့် မြေနေရာ ဖြစ်ပါကြောင်း၊

(၅) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့အရ လက်ခံနိုင်ခြင်းရှိသဖြင့် ၂၄-၉-၂၀၁၅ နေ့တွင် ကျင်းပသည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့ဝင် ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်း အစည်း အဝေး အမှတ်စဉ် ၂၉/၂၀၁၅ ဆုံးဖြတ်ချက်အပိုဒ်-၅(ဗ)အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ ကန့်ကွက်ရန်မရှိပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **နောက်ဆက်တွဲ-ခ**

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibilites – CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA)ကို ဆောင်ရွက်ပြီး EIA အစီရင်ခံစာ တင်ပြရန်။

(၃) အဆိုပါ လေ့လာဆန်းစစ်မှု ရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(၅) သက်ဆိုင်ရာ ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူလူထုတို့၏ ဆန္ဒနှင့် သဘောထား ရယူဆောင်ရွက်ရန်။

**(မှတ်ချက်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ Environmental Impact Assessment – EIA နှင့် Environmental Management Plan – EMP အစီရင်ခံစာများကို ရေးဆွဲတင်ပြမည် ဖြစ်ကြောင်း တင်ပြထားပါသည်။**

(ဂ) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန နောက်ဆက်တွဲ-ဂ

(၁) တီကျစ်ကျောက်မီးသွေးမိုင်း စုစုပေါင်း ကျောက်မီးသွေး ထွက်ရှိနိုင်မှု ပမာဏမှာ တန်ချိန် ၂၂ သန်းရှိပြီး လက်ရှိအချိန်အထိ စုစုပေါင်း တန်ချိန် ၅ သန်းခန့်သာ ထုတ်လုပ်သုံးစွဲခဲ့ပြီးဖြစ်သဖြင့် လက်ကျန်တန်ချိန် ၁၇ သန်းခန့် ထုတ်လုပ်နိုင်မည်ဟုခန့်မှန်းထားပါကြောင်း၊ အဆိုပါ တန်ချိန် ၁၇ သန်းသည် ဤအဆိုပြုလုပ်ငန်းအတွက် တရုတ်ကုမ္ပဏီမှ ငှားယူမောင်းနှင်မည့် ၂၂ နှစ်အတွက် လုံလောက်မှုရှိပါကြောင်း၊ စက်ရုံ၏ မူလဒီဇိုင်းအရ တစ်နှစ်လျှင် ကျောက်မီးသွေးတန်ချိန် ၆ သိန်းသာ လိုအပ်မည်ဖြစ်ပြီး ဓါတ်အားပေးစက်များပြုပြင်ပြီးချိန်နှင့် ဘွိုင်လာအသစ်တည်ဆောက်ပြီးချိန်တွင် တစ်နှစ်လျှင် ကျောက်မီးသွေးတန်ချိန် ၈ သိန်းအထိ လိုအပ်မည် ဖြစ်ကြောင်း၊ အဆိုပါလိုအပ်သည့် ကျောက်မီးသွေးပမာဏအား အချိန်မီထုတ်ပေးနိုင်ရေးအတွက် ဒေင်စွမ်းအင်နှင့် သဘာဝအရင်းအမြစ်များ ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီလီမိတက်နှင့် စာချုပ်ချုပ်ဆိုဆောင်ရွက်ရန် သဘောတူညီမှုရရှိပြီးဖြစ်၍ ကုန်ကြမ်းသုံးစွဲမှု အတွက် ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်း မှ အပြည့်အဝပေးနိုင် ပါကြောင်း။

(၂) တီကျစ်ကျောက်မီးသွေးဓါတ်အားပေးစက်ရုံကို ၂၀၀၄ ခုနှစ်မှစ၍ ၂၀၁၃ ခုနှစ်အထိ မောင်းနှင်ခဲ့ရာ ကျောက်မီးသွေးတစ်တန်လျှင် ခန့်မှန်းလျှပ်စစ်ဓါတ်အား ၅၀၀ ကီလိုဝပ်နာရီထွက်ရှိခဲ့ပြီး စက်ရုံပြုပြင်ပြီးလျှင် ၁၀၀၀ ကီလိုဝပ်နာရီခန့် ထွက်ရှိမည်ဟု ခန့်မှန်းထားကြောင်း၊ မြန်မာနိုင်ငံ၏ တစ်နှစ် လျှပ်စစ်ဓါတ်အား လိုအပ်ချက်မှာ ၃၀၀မဂ္ဂါဝပ်ခန့် တိုးတက်လျက်ရှိရာ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိပါကြောင်း။

(၃) ဓါတ်အား တစ်ယူနစ်ဈေးနှုန်း အမေရိကန်ဒေါ်လာ ၀.၀၃၅ အား ဌာနမှ ကြီးကြပ်စစ်ဆေးပြီး ဝန်ကြီးဌာန တင်ဒါစိစစ်ရေးကော်မတီမှ အတည်ပြုခဲ့ပြီး နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခွင့်ပြုချက် ရယူဆောင်ရွက်ခဲ့ရာ လုပ်ထုံးလုပ်နည်းနှင့်အညီဆောင်ရွက်ရန် အကြောင်းကြားခဲ့ပြီး ထုတ်လုပ်မှုနှုန်းများ တင်ပြထားမှုနှင့် ဈေးနှုန်းတင်ပြထားမှုများ ဆီလျော်မှု ရှိပါကြောင်း။

(၄) တီကျစ် ဓါတ်အားပေး စက်ရုံအား နှစ်ရှည် ငှားယူမောင်းနှင်ခြင်း လုပ်ငန်းကို ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ နှင့် နည်းဥပဒေပါ စံချိန်စံညွှန်းများ အမျိုးသားစွမ်းအင် စီမံခန့်ခွဲမှု ကော်မတီနှင့် ကမ္ဘာ့ဘဏ်တို့မှ သတ်မှတ်ထားသော စံချိန်စံညွှန်းများအတွင်း ရရှိအောင် ကြပ်မတ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် အခိုးအငွေ့ ထုတ်လုပ်မှုများနှင့် ပတ်သက်၍ သတ်မှတ်ထားသည့်အတိုင်း အမှန်ထုတ်လွှတ်မှု ရှိ-မရှိ စဉ်ဆက်မပြတ် ထုတ်လွှတ်မှု (Continuous Emission Monitoring System) များကို တပ်ဆင်၍ အမြဲမပြတ်

စောင့်ကြည့် စစ်ဆေးသွားမည်ဖြစ်သည့်အတွက် အဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့် နည်းပညာမှာ ဆီလျော်မှု ရှိပါကြောင်း။

(ဃ) မြန်မာနိုင်ငံတော် ဗဟိုဘဏ် နောက်ဆက်တွဲ-ဃ

(၁) ချေးငွေအပေါ် အတိုးနှုန်းမှာ အနည်းငယ်မြင့်မားသော်လည်း Debt to Equity အချိုးမှာ သင့်လျော်မှုရှိပါကြောင်း၊ ကုမ္ပဏီမှ ယူဆောင်လာမည့် နိုင်ငံခြား မတည်ငွေရင်း အမေရိကန်ဒေါ်လာ ၄၇ သန်းအနက် Foreign Currency အဖြစ် အမေရိကန်ဒေါ်လာ ၅၀၀၀၀၀ ကိုသာ ယူဆောင်လာမည်ဖြစ်ပြီး ကျန်ငွေများအား in kind အဖြစ်လည်းကောင်း၊ ချေးငွေအနေဖြင့် လည်းကောင်း ယူဆောင်လာမည် ဖြစ်သည်ကို တွေ့ရှိရကြောင်း။

(၂) ချေးငွေ အမေရိကန်ဒေါ်လာ ၃၂.၉၀ သန်းကို (၃)နှစ်အတွင်း (၃)ရစ် ခွဲ၍ အကျေဆပ်မည်ဖြစ်ရာ တစ်နှစ်လျှင် အရင်းနှင့်အတိုး အမေရိကန်ဒေါ်လာ ၁၁ သန်းခန့်အား ပေးဆပ်ရမည်ဖြစ်၍ နိုင်ငံခြားငွေ ဈေးကွက်အပေါ် ဖိအားများနိုင်သဖြင့် ချေးငွေ ပြန်လည် ပေးဆပ်ရမည့် ကာလအား ယခုထက်ရှည်လျားသည့် ကာလရရှိစေရန် ပြန်လည်ညှိနှိုင်းသင့်ကြောင်း။

**(မှတ်ချက်။ မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထား မှတ်ချက်နှင့်အညီ ချေးငွေပြန်လည်ပေးဆပ်မည့်ကာလအား (၃)နှစ်အစား (၅)နှစ်သို့ ညှိနှိုင်းပြင်ဆင်တင်ပြလာပါသည်။**

၁၄။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Wuxi Huaguang Electric Power Engineering Co., Ltd. အမည်ဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Taihu Branch of ABC ဘဏ်တွင် ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၇ ရက်နေ့ရှိ ငွေလက်ကျန် USD ၉၉၉၉၈၅ ရှိကြောင်း တင်ပြထားပါသည်။

၁၅။ Myanmar Inno Line Co., Ltd. မှ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်မှု အစီအစဉ် နှင့် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ်အသားတင် အမြတ်ငွေ၏ ၂ % ကို သုံးစွဲမည်ဖြစ်ပါကြောင်း ပူးတွဲ တင်ပြထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) ရှမ်းပြည်နယ်တောင်ပိုင်း၊ ပင်လောင်းမြို့နယ်၊ တီကျစ်ဒေသတွင် မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ဆောက်လုပ်လျက်ရှိသော ကျောက်မီးသွေး လောင်စာသုံး လျှပ်စစ်ဓါတ်အားပေး စက်ရုံအတွက် ကျောက်မီးသွေး ထုတ်လုပ်ခြင်း လုပ်ငန်းကိုဆောင်ရွက်ရန် ဒေင်စွမ်းအင်နှင့် သဘာဝအရင်း အမြစ်များ ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီလီမိတက်အား

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ်၊ မနသ- ၅၉၇/၂၀၀၃ (၂၇-၂-၂၀၀၃) ဖြင့် ခွင့်ပြုခဲ့ပါ သည်။

(ခ) ကျောက်မီးသွေးမှ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်းကို ကော့သောင်းမြို့၊ တနင်္သာရီတိုင်းဒေသကြီးတွင် ဆောင်ရွက်ရန် သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီ လီမိတက်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် အမှတ် ၈၄၉/၂၀၁၂(၂၉-၆-၂၀၁၂)ဖြင့် ခွင့်ပြုခဲ့ကြောင်းနှင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုခဲ့ခြင်း မရှိသေးကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော လောင်စာ ကျောက်မီးသွေးကို လုံလောက်သည့် ပမာဏအထိ ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်းမှ အပြည့်အဝ ပေးနိုင် ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) စက်ရုံငှားရမ်းမည့် သက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးပြီး တစ်နှစ် အတွင်း အဆိုပြုလုပ်ငန်း ပထမအဆင့်၏ စီးပွားဖြစ်စတင်သည့် နေ့မှစ၍ (၂၂)နှစ်ဖြစ်ပြီး နှစ်စဉ်ငှားရမ်းခအား စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ သတ်မှတ်မည်ဖြစ် ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wuxi Hua Guang (Myanmar) Co.,Ltd မှ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေး လုပ်ငန်းပိုင် ရှမ်းပြည်နယ်၊ ပင်လောင်းမြို့ရှိ တီကျစ်ကျောက် မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေး စက်ရုံအား နှစ်ရှည်ငှားရမ်း၍ အဆင့်မြှင့်တင် ပြုပြင်ခြင်းနှင့် ဘွိုင်လာအသစ်တည်ဆောက်၍လျှပ်စစ်ဓါတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက် ခွင့်ပြုပါရန် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

1215

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပုံစံ (၂) စာအမှတ် ရင-၄--၁ ရက်စွဲ ၁၁-၁၁-၂၀၁၅ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ခွင့်ပြုမိန့်အမှတ် ၁၀၃၈ / ၂၀၁၅ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာ လ ၁၁ ရက်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၃၊ ပုဒ်မခွဲ(ခ) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည် -

(က) ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူအမည် MR. ZHAO ZHENG

(ခ) နိုင်ငံသား CHINESE

(ဂ) နေရပ်လိပ်စာ ROOM 601, NO. 29 MUXI YUAN, NAN CHANG ZONE, WUXI CITY, JIANGSU, CHINA

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ WUXI HUAGUANG ELECTRIC POWER ENGINEERING CO., LTD. NO. 7, GAOKAI ROAD, BINHU ZONE WUXI CITY, JIANGSU, CHINA

(င) ဖွဲ့စည်းရာအရပ် PEOPLE'S REPUBLIC OF CHINA

(စ) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား တီကျစ်ကျောက် မီးသွေးသုံး ရေနွေးငွေ့ ဓါတ်အားပေးစက်ရုံအား အဆင့်မြှင့်တင်ပြုပြင်ခြင်းနှင့် ဘွိုင်လာအသစ်တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ဦးပိုင်အမှတ်(၁၁၂)၊ ကွင်းအမှတ် (၁၃-မြင်သာရွာမ)(၁၄-လွယ်ထွီတောင်)(၁၅-ဆည်ခေါင်းရွာမ)၊ တီကျစ်ကျေးရွာအုပ်စု၊ နောင်တရားမြို့နယ်ခွဲ၊ ပင်လောင်းမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်ရှိမြေ ၁၁၀.၃၄ ဧက

(ဇ) နိုင်ငံခြားမတည်ငွေရင်း ပမာဏ အမေရိကန်ဒေါ်လာ ၄၇.၀၀ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး (၃)နှစ်အတွင်း

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၄၇.၀၀ သန်း နှင့် ညီမျှသောမြန်မာကျပ်ငွေ

(ဋ) တည်ဆောက်မှုကာလ ၂ နှစ်

(ဌ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၂၂ နှစ်

(ဍ) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်
WUXI HUA GUANG (MYANMAR) COMPANY LIMITED

11/11

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

